အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Brighter Energy Co., Ltd. တည်ထောင်ပြီး ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG များ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Brighter Energy Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးမိုးဆန်းအောင် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG များ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်းပိုင် သဘော်ဖျက်စက်ရုံ(သီလဝါ)၊ သီတာမြိုင်ရပ်ကွက်၊ ၊ ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ၃။ | မြေပိုင်ရှင် | - ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်း |
| | မြေအကျယ်အဝန်း | - သဘော်ဖျက်စက်ရုံ(သီလဝါ)ရှိ စုစုပေါင်းမြေ၇၆၉.၇၉ ဧက အနက်မှ ၁၆၈.၅၀ ဧက |
| | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၁.၁၉ (တစ်နှစ်တစ်ဧကလျှင် US$ ၄,၈၀၀)<br>- မြေအသုံးချမှုပရီမီယံကြေး မြေတစ်ဧကလျှင် US$ ၁၀,၀၀၀ |
| | မြေအသုံးပြုခွင့်သက်တမ်း | - ၅၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ၅၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်း မတည်ငွေရင်းပမာဏ | - ကျပ် ၂၀၀,၃၁၀.၀၀သန်း(အမေရိကန်ဒေါ်လာ ၁၇.၆၄ သန်း အပါအဝင်) |
| | **ထည့်ဝင်သည့်အမျိုးအစား** | |

| ထည့်ဝင်သည့်အမျိုးအစား | မြန်မာ ကျပ်(သန်း) | နိုင်ငံခြား US$(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| ငွေသား | ၁,၀၀၀.၀၀ | - | ၁,၀၀၀.၀၀ |
| စက်ပစ္စည်း | ၄,၇၇၈.၀၉ | ၁၇.၆၄ | ၂၈,၅၉၁.၆၆ |
| ဆောက်လုပ်မှုကုန်ကျစရိတ် | ၁၄၈,၃၂၃.၂၆ | - | ၁၄၈,၃၂၃.၂၆ |
| မြေနှင့်အဆောက်အဦငှားရမ်းခ | ၁၄,၃၁၀.၀၀ | - | ၁၄,၃၁၀.၀၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၅၀.၅၇ | - | ၅၀.၅၇ |
| အခြား | ၈,၀၃၄.၅၁ | - | ၈,၀၃၄.၅၁ |
| **စုစုပေါင်း** | **၁၇၆,၄၉၆.၄၃** | **၁၇.၆၄** | **၂၀၀,၃၁၀.၀၀** |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း (၁၀၀%) |

| | | |
|---|---|---|
| ၈။ | နှစ်စဉ်ပျမ်းမျှရရှိသည့် ဝန်ဆောင်ခ<br>ငှားရမ်းခ<br>ရောင်းရငွေ | - ကျပ် ၅,၁၀၁.၂၀ သန်း<br>- ကျပ် ၅,၈၃၄.၉၀ သန်း<br>- ကျပ် ၁,၁၈၁.၁၄ သန်း |
| ၉။ | ဝန်ထမ်းခန့်ထားမှု | ပြည်တွင်း / ပြည်ပ<br>ဦးရေ ၇၉ ဦး -<br>အနိမ့်ဆုံးလစာ ၁၅၀,၀၀၀ ကျပ် -<br>အမြင့်ဆုံးလစာ ၁,၅၀၀,၀၀၀ ကျပ် - |
| ၁၀။ | CSR | - နှစ်စဉ်အသားတင်အမြတ်၏ ၂% အား သုံးစွဲမည် ဖြစ်ကြောင်းတင်ပြထားပါသည်။ |
| ၁၁။ | အခြားတင်ပြချက်များ | -ငွေကြေးအထောက်အထားအဖြစ် Brighter Energy Co., Ltd အမည်ဖြင့် KBZ Bank (မြေနီကုန်း ဘဏ်ခွဲ)၌ ၁၇-၁၀-၂၀၁၇ ရက်စွဲဖြင့်ကျပ် ၁၀,၀၀၀,၀၀၀.၀၀ ရှိကြောင်းအထောက်အထားပူးတွဲတင်ပြထားပါသည်။<br><br>-Brighter Energy Co., Ltd. ၏ လုပ်ငန်းတည်နေရာ၊ Site Plan၊ Business model၊ Scope of work၊ Project Timeline၊ ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်မည့် အသေးစိတ် အစီအစဉ်များ ရေးဆွဲမည့်အခြေအနေနှင့် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက်များအား တင်ပြထားပါသည်။<br><br>-အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်းနှင့် Brighter Energy Co., Ltd. တို့ အကြား ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းနှင့် KBZ Group of Companies Ltd. တို့အကြား ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၂၃ ရက်နေ့ ရက်စွဲဖြင့် လက်မှတ်ရေးထိုး ချုပ်ဆိုထားသည့် နှစ်ဦးနှစ်ဖက် သဘောတူညီချက်မှတ်တမ်း (MOA) နှင့် KBZ Group of Companies Ltd. နှင့် PTT Public Company Limited တို့အကြား၂၀၁၇ ခုနှစ် မတ်လ ၂၉ ရက်နေ့ ရက်စွဲဖြင့် လက်မှတ်ရေးထိုးထားသည့် နားလည်မှုစာချွန်လွှာ (MOU )တို့အား ပူးတွဲတင်ပြထားပါသည်။ |
| ၁၂။ | စိစစ်တင်ပြချက် | - မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၆ တွင် ပါဝင်သဖြင့် ခွင့်ပြုမိန့်ရယူရန်လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း အမျိုးအစားဖြစ် ပါ သည်။<br><br>- မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အမိန့်ကြော်ငြာစာအမှတ်- ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုစာရင်းတွင် မပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

| | | |
|---|---|---|
| | | - မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အမိန့် ကြော်ငြာစာအမှတ်- ၁၅/၂၀၁၇ အရ အဆိုပြုလုပ်ငန်းသည် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံရမည့် လုပ်ငန်းစာရင်းတွင် ပါဝင်သဖြင့်လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ကန့်ကွက်ရန်မရှိကြောင်း သဘောထား မှတ်ချက်ရရှိပြီး ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက- ၅(စ)/ ခ-၀၁၁ /၂၀၁၈( ၁၂၃ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၁၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Brighter Energy Co., Ltd. တည်ထောင်ပြီး ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG များ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Brighter Energy Co., Ltd. တည်ထောင်ပြီး ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီတာမြိုင်ရပ်ကွက်၊ သဘော်ဖျက်စက်ရုံ(သီလဝါ)ရှိ စုစုပေါင်းမြေ ၇၆၉.၇၉ ဧကအနက် မှ ၁၆၈.၅၀ ဧကတွင် ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG များ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့် ဖြူးခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်းနှင့် Brighter Energy Co., Ltd. တို့အကြား ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းနှင့် KBZ Group of Companies Ltd. တို့အကြား ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၂၃ ရက်နေ့ရက်စွဲဖြင့် လက်မှတ်ရေးထိုးချုပ်ဆိုထားသည့် နှစ်ဦးနှစ်ဖက် သဘောတူညီချက်မှတ်တမ်း (MOA) နှင့် KBZ Group of Companies Ltd. နှင့် PTT Public Company Limited တို့အကြား ၂၀၁၇ ခုနှစ် မတ်လ ၂၉ ရက်နေ့ရက်စွဲဖြင့် လက်မှတ်ရေးထိုးထားသည့် နားလည်မှုစာချွန်လွှာ(MOU)တို့အား ပူးတွဲတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ၅၀ နှစ် ဖြစ်ပါသည်။ စုစုပေါင်းမြေ ၇၆၉.၇၉ ဧက အနက်မှ ၁၆၈.၅၀ ဧကအား ငှားရမ်း၍ နှစ်စဉ်မြေငှားရမ်းခမှာ တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၁.၁၉ နှုန်း (တစ်နှစ်တစ်ဧကလျှင် US$ ၄,၈၀၀) နှင့် မြေအသုံးချမှု ပရီမီယံကြေး မြေတစ်ဧကလျှင် US$ ၁၀,၀၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂နှစ်ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၇.၆၄ သန်း အပါအဝင် ကျပ် ၂၀၀,၃၁၀.၀၀ သန်း ဖြစ်ပြီး မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | မြန်မာ (ကျပ်/သန်း) | နိုင်ငံခြား (US$/သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|
| ငွေသား | ၁,၀၀၀.၀၀ | - | ၁,၀၀၀.၀၀ |
| စက်ပစ္စည်း | ၄,၇၇၈.၀၉ | ၁၇.၆၄ | ၂၈,၅၉၁.၆၆ |
| ဆောက်လုပ်မှုကုန်ကျစရိတ် | ၁၄၈,၃၂၃.၂၆ | - | ၁၄၈,၃၂၃.၂၆ |
| မြေနှင့်အဆောက်အဦငှားရမ်းခ | ၁၄,၃၁၀.၀၀ | - | ၁၄,၃၁၀.၀၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၅၀.၅၇ | - | ၅၀.၅၇ |
| အခြား | ၈,၀၃၄.၅၁ | - | ၈,၀၃၄.၅၁ |
| **စုစုပေါင်း** | **၁၇၆,၄၉၆.၄၃** | **၁၇.၆၄** | **၂၀၀,၃၁၀.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းဝန်ထမ်း ၇၉ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၁၅၀,၀၀၀ ကျပ်နှင့် အမြင့်ဆုံးလစာ ၁,၅၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ဆီသိုလှောင်ကန် စုစုပေါင်း (၁၅) လုံး တည်ဆောက်ကာ နှစ်စဉ်ပျမ်းမျှ သိုလှောင်မှုအတွက် သိုလှောင်ကန်ငှားရမ်းခကျပ် ၅,၈၃၄.၉၀သန်း၊ ဝန်ဆောင်ခကျပ် ၅,၁၀၁.၂၀၀ သန်း နှင့် ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG ရောင်းရငွေ ၁,၁၈၁.၁၄ သန်း တို့ ရရှိမည် ဖြစ်ကြောင်း တင်ပြထားပြီး ဝန်ဆောင်မှုပေးမည့် အသေးစိတ်ပုံစံအား အဆိုပြုချက်တွင် ပူးတွဲ တင်ပြထားပါသည်။ အဆိုပြု လုပ်ငန်းမှ ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG များကို ပြည်တွင်းသို့ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။

၈။ လုပ်ငန်းနှင့်စပ်လျဉ်း၍ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားစာအား **နောက်ဆက်တွဲ**ဖြင့် တင်ပြထားပါသည်။ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့သို့လည်း သဘောထားတောင်းခံထားပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် Brighter Energy Co., Ltd အမည်ဖြင့် KBZ Bank (မြေနီကုန်းဘဏ်ခွဲ) ၌ ၁၇-၁၀-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၁၀,၀၀၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းအား ၂၀၁၈ခုနှစ် မတ်လ ၁၉ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၈/၂၀၁၈)ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်းတင်ပြထားပါသည်။

(ဂ) ဥပဒေပုဒ်မ ၃၆ အရ ကော်မရှင်သို့ အဆိုပြုချက် တင်ပြရမည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှုစာရင်းတွင် မပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်.**

၁၂။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Brighter Energy Co., Ltd. တည်ထောင်ပြီး ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG များ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ- မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ